**Mya Bay H & CO Platinum Pathein Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ၁၀ ရပ်ကွက်၊ ကွင်းအမှတ်(၅၀)၊ သစ်ညိုကုန်းကွင်း၊ ဦးပိုင်အမှတ်(၃၈/၂၊ ၃၈/၃၊ ၃၈/၅) တွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန် ကြာချိန်**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၆-၈-၂၀၁၅ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၉-၉-၂၀၁၅ | ၁၂-၁၀-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၉-၉-၂၀၁၅ | ၂၂-၁၀-၂၀၁၅ | |
| | (ဂ) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန | ၂၉-၉-၂၀၁၅ | ၂၁-၁၀-၂၀၁၅ | |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၂၉-၉-၂၀၁၅ | ၁၆-၁၀-၂၀၁၅ | |
| | (င) ပုသိမ်မြို့နယ်စည်ပင်သာယာရေးအဖွဲ့ | ၂၇-၁၀-၂၀၁၅ | ၃-၁၂-၂၀၁၅ | |
| ၃။ | PAT အစည်းအဝေး (၂၆/၂၀၁၅) သို့ တင်ပြခြင်း | ၂၇-၇-၂၀၁၅ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၆-၈-၂၀၁၅ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပေးပို့ခြင်း | ၂၉-၆-၂၀၁၅ | | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(၁၅)စုံ ပြန်လည်ပေးပို့ခြင်း | ၂၁-၃-၂၀၁၆ | | |
| ၇။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | ၁၁/၂၀၁၆ (၂၅-၃-၂၀၁၆) | | |
| ၈။ | **စုစုပေါင်းကြာမြင့်ရက်** | **(၂၁၉)ရက်** | | |

မှတ်ချက်။ (၆-၈-၂၀၁၅)နေ့တွင် အဆိုပြုချက်အား ကော်မရှင်သို့ တင်ပြခဲ့ပြီး လုပ်ငန်း ဆောင်ရွက်မည့် မြေမှာ Mya Bay Development Co., Ltd. ၏ ဒါရိုက်တာ ဒေါ်ဝင်းဝင်းခိုင် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားပြီး ဖြစ်သော်လည်း လယ်မြေ ဖြစ်သဖြင့် လယ်ယာမြေကို အခြားနည်း အသုံးပြုခွင့်အတွက် ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ မြေနေရာ ဆောင်ရွက်ခွင့် ရရှိရန် တင်ပြထားဆဲဖြစ်သဖြင့် ကော်မရှင်မှ အဆိုပြုချက် လက်ခံထားသည်မှာ ရက်ပေါင်း ၉၀ ကျော်လွန်နေပါသောကြောင့် အဆိုပြုချက်အား ပြန်လည် ပေးပို့ခဲ့ပြီး ယခုအခါ (၁၄-၃-၂၀၁၆)တွင် ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ ခွင့်ပြုချက်နှင့်အတူ တင်ပြလာခြင်း ဖြစ်ပါသည်။

| | |
|---|---|
| ကုမ္ပဏီအမည် | - Mya Bay H & CO Platinum Pathein Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ( Private Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း |
| တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ၁၁ ရပ်ကွက်၊ ကွင်း အမှတ်(၅၀)၊ သစ်ညိုကုန်းကွင်း၊ ဦးပိုင်အမှတ်(၃၈/၂၊ ၃၈/၃၊ ၃၈/၅)ရှိ စုစုပေါင်းမြေ (၁၅.၂၈) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၁၆.၀၃ သန်း |
| လုပ်ငန်းသက်တမ်း | -၅၀ နှစ် |
| အရင်းကြေကာလ | - (၆)နှစ်၊(၁၀)လ |
| IRR | - ၁၄.၉၀ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀.၁၅ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၂၇၆၂.၆၉ |
| ၅ | ဝင်ငွေခွန် | ၃၈၅၁.၀၆ | ၄၅၉၃.၀၂ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၁၉၃.၉၆ |
| ၇ | CSR (၂%) | - | ၇၃.၀၂ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း ၉၂ ဦး |
| | စုစုပေါင်း | ကျပ် ၃၈၅၃.၃၇ သန်း | ကျပ် ၇၆၂၃.၈၅ သန်း |
| | Cost : Benefit | ၁: ၂ | |

## Mya Bay H & CO Platinum Pathein Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ၁၁ ရပ်ကွက်၊ ကွင်းအမှတ်(၅၀)၊ သစ်ညိုကုန်းကွင်း၊ ဦးပိုင်အမှတ်(၃၈/၂၊ ၃၈/၃၊ ၃၈/၅) တွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

<table>
<tr><td>၁။</td><td>ကုမ္ပဏီအမည်</td><td>- Mya Bay H & CO Platinum Pathein Co., Ltd.</td></tr>
<tr><td></td><td>လုပ်ငန်းအဆိုပြုသူအမည်</td><td>- Mr. Jonathan Paul Nichols</td></tr>
<tr><td></td><td>အဖွဲ့အစည်းပုံသဏ္ဍာန်</td><td>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု</td></tr>
<tr><td></td><td>အဆိုပြုလုပ်ငန်းအမျိုးအစား</td><td>- ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း</td></tr>
<tr><td></td><td>လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း</td><td>- ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ၁၁ ရပ်ကွက်၊ ကွင်းအမှတ်(၅၀)၊ သစ်ညိုကုန်းကွင်း၊ ဦးပိုင်အမှတ်(၃၈/၂၊ ၃၈/၃၊ ၃၈/၅)ရှိ စုစုပေါင်း မြေဧရိယာ(၁၅.၂၈)ဧက</td></tr>
<tr><td>၂။</td><td>တည်ဆောက်ရေးကာလ</td><td>- ၃ နှစ်</td></tr>
<tr><td>၃။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>- ၅၀ နှစ်</td></tr>
<tr><td>၄။</td><td>စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏ</td><td>- US$ ၁၆.၀၃ သန်း</td></tr>
<tr><td>၅။</td><td>ဝန်ဆောင်မှု(၆)နှစ်မြောက်</td><td>
<table>
<tr><th>စဉ်</th><th>ဝန်ဆောင်မှုပေးမည့် အခန်းအမျိုးအစား</th><th>ဝန်ဆောင်မှု ပေးနိုင်မည့် အခန်း</th><th>Occupancy rate(%)</th><th>၁ခန်းလျှင် ဝန်ဆောင်ခ နှုန်း (US$)</th></tr>
<tr><td>က</td><td>Single Room</td><td>၃၈</td><td>၇၅ %</td><td>၈၀</td></tr>
<tr><td>ခ</td><td>Double Room</td><td>၃၁</td><td>၇၅ %</td><td>၈၀</td></tr>
<tr><td>ဂ</td><td>Suite Room</td><td>၆</td><td>၇၅ %</td><td>၁၀၀</td></tr>
</table>
</td></tr>
<tr><td>၆။</td><td>ဝင်ငွေ<br>အသားတင်အမြတ်(၆ နှစ်မြောက်)</td><td>- US$ ၃.၄၃ သန်း<br>- US$ ၀.၈၄ သန်း</td></tr>
<tr><td>၇။</td><td>နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်</td><td><br><br>- US$ ၀.၂၈ သန်း<br>- US$ ၀.၁၉ သန်း</td></tr>
<tr><td>၈။</td><td>အရင်းကြေကာလ</td><td>- (၆)နှစ် နှင့် (၁၀)လ</td></tr>
</table>

| | | |
|---|---|---|
| ၉။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၄.၉၀ % |
| ၁၀။ | လုပ်သားအင်အား | - ပြည်တွင်း -၉၂ ဦး |
| ၁၁။ | လစာပေးချေမှုအစီအစဉ် | - ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။ |
| ၁၂။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSR အတွက် အသားတင်အမြတ်၏ ၂ ရာခိုင်နှုန်း သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ်တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၁၄။ | လျှပ်စစ်ဓါတ်အား | - လုပ်ငန်း ဆောင်ရွက်ရာတွင် လိုအပ်သော လျှပ်စစ်ဓါတ်အားမှာ ၁၃၉၀ kilowatt ဖြစ်ပါသည်။ |
| ၁၅။ | စိစစ်တင်ပြချက် | - (၆-၈-၂၀၁၅)နေ့တွင် အဆိုပြုချက်အား ကော်မရှင်သို့ တင်ပြခဲ့ပြီး လုပ်ငန်း ဆောင်ရွက် မည့် မြေမှာ Mya Bay Development Co., Ltd. ၏ ဒါရိုက်တာ ဒေါ်ဝင်းဝင်းခိုင် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားပြီး ဖြစ်သော်လည်း လယ်မြေ ဖြစ်သဖြင့် လယ်ယာမြေကို အခြားနည်း အသုံးပြုခွင့်အတွက် ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ မြေနေရာ ဆောင်ရွက်ခွင့် ရရှိရန် တင်ပြထားဆဲဖြစ်သဖြင့် ကော်မရှင်မှ အဆိုပြုချက် လက်ခံထား သည်မှာ ရက်ပေါင်း ၉၀ ကျော်လွန်နေပါသောကြောင့် အဆိုပြုချက်အား ပြန်လည် ပေးပို့ခဲ့ပြီး ဖြစ်ပါသည်။<br>- ယခုအခါ ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှု အဖွဲ့၏ မြေနေရာ ဆောင်ရွက်ခွင့် ရရှိထားပြီး ဖြစ်ပါသောကြောင့် အဆိုပြုချက်အား ၁၄-၃-၂၀၁၆နေ့တွင် လုပ်ငန်း အမျိုးအစား ပြောင်းလဲ၍ ပြင်ဆင် တင်ပြလာခြင်း ဖြစ်ပါသည်။<br>- ယခင် တင်ပြခဲ့သည့် လုပ်ငန်းအမျိုးအစားမှာ Hotel , Shopping Mall and Villas စသည့် ဝန်ဆောင်မှု လုပ်ငန်းများ ဖြစ်ပြီး ယခု ပြန်လည်တင်ပြလာသည့် လုပ်ငန်းမှာ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဖြစ်ပါသည်။<br>- ဆောက်လုပ်မည့် အဆောက်အဦမှာ (၉)ထပ် အဆောက်အဦ (၁)လုံးဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - ကားပါကင်နေရာတွင် ကားစီးရေ ၄၂ စီးနှင့် မော်တော်ဆိုင် ကယ် ၁၆ စီး ရပ်နားနိုင်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ ထောက်ခံတင်ပြထားသည့် ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်စာရင်းမှာ မူလအဆိုပြုတင်ပြထားသည့် Hotel , Shopping Mall and Villas စသည့် ဝန်ဆောင်မှု လုပ်ငန်းများအတွက် ဆောက်လုပ်ရန်ဖြစ်ကြောင်း နှင့် ယခု ပြောင်းလဲဆောင်ရွက်မည့် ဝန်ဆောင်မှုလုပ်ငန်းအတွက် ထောက်ခံထားခြင်း မဟုတ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၄/န-၀၃၀/၂၀၁၆( ၄၆၃ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၂ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Mya Bay H & CO Platinum Pathein Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ၁၁ ရပ်ကွက်၊ ကွင်းအမှတ်(၅၀)၊ သစ်ညိုကုန်းကွင်း၊ ဦးပိုင်အမှတ်(၃၈/၂၊ ၃၈/၃၊ ၃၈/၅) တွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက်ရန် တင်ပြခြင်း ကိစ္စ**

၁။ ဟောင်ကောင်နိုင်ငံ H & CO Real Estate Holding Co., Ltd. (နိုင်ငံခြား ၈၀ %) နှင့် Mya Bay Development Co., Ltd. (မြန်မာ ၂၀%)တို့ ဖက်စပ် ထူထောင်ပြီး Mya Bay H & CO Platinum Pathein Co., Ltd. အမည်ဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ၁၁ ရပ်ကွက်၊ ကွင်းအမှတ်(၅၀)၊ သစ်ညိုကုန်းကွင်း၊ ဦးပိုင်အမှတ်(၃၈/၂၊ ၃၈/၃၊ ၃၈/၅)ရှိ စုစုပေါင်း မြေဧရိယာ(၁၅.၂၈) ဧကတွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံသူ Mr. Jonathan Paul Nichols မှ အဆိုပြုတင်ပြခြင်းအား ၂၀၁၅ ခုနှစ် ဇူလိုင် လ ၂၇ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၆/၂၀၁၅)အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုချက်ပါ ဟောင်ကောင်နိုင်ငံ H & CO Real Estate Holding Co., Ltd. နှင့် မြန်မာနိုင်ငံ Mya Bay Development Co., Ltd. တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)များ တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့်မြေဧရိယာမှာ ၁၅.၂၈ ဧကဖြစ်ပြီး တစ်နှစ်အတွက် မြေငှားရမ်းခနှုန်းမှာ ၁ စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁ နှုန်းဖြင့် စုစုပေါင်း ၆၁၈၅၆.၂၀ စတုရန်းမီတာအတွက် အမေရိကန်ဒေါ်လာ ၆၁၈၂၉ ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ (၅၀) နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၃)နှစ် ဖြစ်သည်။ တည်ဆောက်ရေးစတင်မည့် ကာလမှာ ခွင့်ပြုမိန့် ရရှိပြီး (၃)လအတွင်း ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ US$ ၁၆.၀၃ သန်းဖြစ်ပြီး ၎င်းတွင် နိုင်ငံခြား မတည်ငွေရင်း US$ ၁၂.၈၃ သန်း (၈၀%) နှင့် နိုင်ငံသား မတည်ငွေရင်း US$ ၃.၂၀ သန်း (၂၀ %) တို့ ထည့်ဝင်ထားပါသည်။ လုပ်ငန်းသုံးပစ္စည်းများ နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ၊ လုပ်ငန်းသုံးယာဉ်တန်ဖိုးများဖြစ်သည့် အမေရိကန်ဒေါ်လာ ၂.၅၂ သန်း တန်ဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

(US$/သန်း)

| | မတည်ငွေရင်း | | စုစုပေါင်း |
|---|---|---|---|
| | နိုင်ငံသား | နိုင်ငံခြား | |
| Cash | ၃.၂၁ | ၁၀.၃၀ | ၁၃.၅၁ |
| Machinery & Equipment၊ Hotel Use | - | ၂.၅၂ | ၂.၅၂ |
| **စုစုပေါင်း** | ၃.၂၁ | ၁၂.၈၂ | ၁၆.၀၃ |

၆။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း(၉၂)ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်း၏ (၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်မှုပေးမည့် အခန်း အမျိုးအစား | ဝန်ဆောင်မှု ပေးနိုင်မည့် အခန်း | Occupancy rate(%) | ၁ခန်း လျှင် ဝန်ဆောင်ခ နှုန်း |
|---|---|---|---|---|
| | | | | US$ |
| (က) | Single Room | ၇၈ | ၇၅ % | ၈၀ |
| (ခ) | Double Room | ၇၁ | ၇၅ % | ၈၀ |
| (ဂ) | Suite Room | ၆ | ၇၅ % | ၁၀၀ |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | US$/သန်း |
|---|---|---|
| (က) | ဝင်ငွေ | ၃.၄၃ |
| (ခ) | အသုံးစရိတ် | ၂.၅၉ |
| (ဂ) | အသားတင်အမြတ် | ၀.၈၄ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၀.၂၈ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၀.၁၉ သန်းရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်း

ကြေကာလမှာ(၆)နှစ် (၁၀)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) မှာ ၁၄.၉၀ % ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် လက်ရှိ မြို့ပြစီမံကိန်းအား ထိခိုက်မှု မရှိနိုင်သလို နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းအားလည်း ထိခိုက်မှု မရှိနိုင်ပါကြောင်း။

(၂) Mya Bay H & CO Platinum Pathein Co., Ltd.၏ အဆိုပြုတင်ပြလာသည့် Hotel ဝန်ဆောင်မှုလုပ်ငန်းများအား ရင်းနှီးမြှုပ်နှံခြင်းဖြင့် ဒေသခံပြည်သူများ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း။

(၃) အဆိုပြုလျှောက်ထားသည့် နေရာသည် အဆိုပြုလာသည့် Mya Bay H & CO Platinum Pathein Co., Ltd.၏ လုပ်ငန်းများ ဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်း မရှိပါကြောင်း။

(၄) Mya Bay H & CO Platinum Pathein Co., Ltd.၏ အဆိုပြုထားသည့် မြေနေရာသည် လုပ်ငန်းဆောင်ရွက်မည့် မြေအမျိုးအစား မှန်ကန်ပါကြောင်း။

(၅) ဧရာဝတီတိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့် လုပ်ငန်းများဖြစ်ပါသဖြင့် ပြည်ပရင်းနှီးမြှုပ်နှံမှုများအပေါ် ထောက်ခံပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု(CSR)အတွက် နှစ်စဉ် ရရှိလာမည့် အသားတင်အမြတ်ငွေ၏ ၂ % အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည် ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်)ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ဆောင်ရွက်ပြီး EIA အစီရင်ခံစာအား ရေးဆွဲပြုစုတင်ပြရန်။

(၃) အဆိုပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ အပါအဝင် ပတ်ဝန်းကျင်ဆိုင်ရာ အစီအမံများ၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ရေးဆွဲ တင်ပြရန်နှင့် စီမံချက်တွင် ပါရှိသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**( အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အား Wunkyin(Environment)Myanmar Cooperative Ltd. (EMC) မှ Third Party အဖြစ်ရေးဆွဲ ပြုစုလျက်ရှိကြောင်း တင်ပြထားပါသည်။)**

**(ဂ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

(၁) တိုးတက်လျက်ရှိသည့် ခရီးသွားကဏ္ဍနှင့်အတူ ပိုမိုဝင်ရောက်လာသည့် ဧည့်သည်များအတွက် အဆင့်မီအိပ်ခန်းများနှင့် အခြားဝန်ဆောင်မှုများ ဖြည့်ဆည်း ပေးမည့် စုစုပေါင်း အခန်း(၁၅၅)ခန်းပါ ဟိုတယ်(၁)လုံး၊ Villas (၂၆)လုံး၊ Shopping Mall (၂)ခု နှင့် ရုပ်ရှင်ရုံ အငယ်စား(၁)ခုတို့ပါဝင်မည့် စီမံကိန်းဖြစ်သည့်အတွက် Mya Bay H & CO Platinum Pathein Co., Ltd. မှ လုပ်ငန်းဆောင်ရွက်ရန် တင်ပြလာခြင်းကို ကန့်ကွက်ရန် မရှိပါကြောင်း။

(၂) တင်ပြလာသည့် မြေအမျိုးအစားသည် လယ်မြေအမျိုးအစားဖြစ်ကြောင်း တွေ့ရှိရသည့်အပြင် ပိုင်ရှင်(၃)ဦးထံမှ ဝယ်ယူထားပြီး ဟိုတယ်လုပ်ငန်း ဆောင်ရွက်မည်ဖြစ်သဖြင့် လယ်မြေကို အခြားနည်း အသုံးပြုရန်အတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ တရားဝင် ခွင့်ပြုချက်ရရှိရေး ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း။

(၃) အထပ်(၉)ထပ် ၊ အခန်း(၁၅၅)ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်သည့်အတွက် ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ခွင့်ပြုချက် ရရှိထားသော်လည်း ဧရာဝတီတိုင်းဒေသကြီး စည်ပင်သာယာရေးအဖွဲ့၏ ခွင့်ပြုချက် ရယူ ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း။

(၄) ငှားရမ်းမည့် အခန်း၁ နှုန်းထားများတွင် Single Room(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ ၈၀၊ Double Room ၁ ခန်းလျှင် အမေရိကန်ဒေါ်လာ ၈၀ ၊ Suite Room(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ ၁၀၀ နှုန်း စသည်ဖြင့် သတ်မှတ်ဖော်ပြထားသဖြင့် ငှားရမ်းမည့် နှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါကြောင်း။

**(အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာ ဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း (နောက်ဆက်တွဲ- ဃ)**

(၁) ပုသိမ်မြို့တွင် တည်ဆောက်မည့် Hotel တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း။

(၂) အဆောက်အဦအပိုင်းတွင် ပြည်ပမှ တင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| စဥ် | ပစ္စည်းအမျိုးအမည် နှင့် ရေတွက်ပုံ | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံ တင်ပြသော အရေအတွက် |
|---|---|---|---|---|
| (က) | Tower Crane/ (Nos) | ၈ | - | ၁ |
| (ခ) | Elevator/(Nos) | ၈ | - | ၇ |
| (ဂ) | Batching Plant/ (Nos) | ၁ | - | ၁ |
| (ဃ) | Station Pump/ (Nos) | ၂ | - | ၂ |
| (င) | Concrete Mixer Truck/ (Nos) | ၈ | - | ၆ |
| (စ) | System Formwork / $m^2$ | ၆၄၇၁ | - | ၆၄၇၁ |
| (ဆ) | 35 Ton Mobile Crane/ Nos | ၂ | - | ၂ |

Nos= စီးရေ ၊ $m^2$ = စတုရန်းမီတာ

(င) **ပုသိမ်မြို့နယ်စည်ပင်သာယာရေးအဖွဲ့** ။ ကန့်ကွက်ရန် မရှိပါကြောင်း။**(နောက်ဆက်တွဲ- င)**

၁၁။ ကျပ်ငွေ အထောက်အထားအဖြစ် Mya Bay Development Co., Ltd. အမည်ဖြင့် ရိုးမဘဏ်တွင် (၂၅-၃-၂၀၁၅) နေ့စွဲရှိ စာရင်းဖွင့် ငွေလက်ကျန် ကျပ် ၂၁၉,၄၂၃,၂၉၂ ရှိကြောင်း တင်ပြထားပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Mr. Amnaj Tanaka အမည်ဖြင့် Bangkok Bank ၌ (၂၉-၁-၂၀၁၄) နေ့စွဲရှိ စာရင်းဖွင့် ငွေလက်ကျန် US$ ၅၂၇၉၇.၃၁ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ အဆိုပြု လုပ်ငန်းအတွက် လိုအပ်သော သောက်သုံးရေအတွက် မီတာ(၁၀၀)အနက်ရှိသော ၄ လက်မ ပိုက်ရေတွင်းသုံးတွင်းအား တူးဖော်ပြီး Waste Treatment System များ အသုံးပြုကာ သုံးစွဲမည် ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ် ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် မီးဘေး ကာကွယ်ထားရှိမှုများအား စနစ်တကျဆောင်ရွက်ထားရှိမည့် Plan တင်ပြထားပါကြောင်းနှင့် ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ CSR အတွက် အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်း သုံးစွဲမည်ဖြစ်ပြီး EIA နှင့် EMP Report တို့အား ရေးဆွဲလျက်ရှိပါကြောင်း တင်ပြထားပါသည်။

၁၄။ လုပ်ငန်း ဆောင်ရွက်ရာတွင် လိုအပ်သော လျှပ်စစ်ဓါတ်အားမှာ ၁၃၉၀ kilowatt ဖြစ်ပါကြောင်း၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားနှင့်အညီ ပြည်ပမှ တင်သွင်းလိုသည့် ပစ္စည်းများအား ပြင်ဆင် တင်ပြီးပြီး ဖြစ်ပါကြောင်း၊ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ညွှန်ကြားချက်များအတိုင်း လိုက်နာမည်ဖြစ်ပါကြောင်း ကတိဝန်ခံချက် တင်ပြထားပါသည်။

၁၅။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားသည်။

**စိစစ်တင်ပြချက်**

၁၆။ (က) (၆-၈-၂၀၁၅)နေ့တွင် အဆိုပြုချက်အား ကော်မရှင်သို့ တင်ပြခဲ့ပြီး လုပ်ငန်း ဆောင်ရွက်မည့် မြေမှာ Mya Bay Development Co., Ltd. ၏ ဒါရိုက်တာ ဒေါ်ဝင်းဝင်းခိုင် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားပြီး ဖြစ်သော်လည်း လယ်မြေ ဖြစ် သဖြင့် လယ်ယာမြေကို အခြားနည်း အသုံးပြုခွင့်အတွက် ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှု အဖွဲ့၏ မြေနေရာ ဆောင်ရွက်ခွင့် ရရှိရန် တင်ပြထားဆဲဖြစ်သဖြင့် ကော်မရှင်မှ အဆိုပြုချက် လက်ခံထားသည်မှာ ရက်ပေါင်း ၉၀ ကျော်လွန်နေပါသောကြောင့် အဆိုပြုချက်အား ပြန်လည်ပေးပို့ခဲ့ပြီး ဖြစ်ပါသည်။

(ခ) ယခုအခါ ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှု အဖွဲ့၏ မြေနေရာ ဆောင်ရွက်ခွင့် ရရှိထားပြီး ဖြစ်ပါသောကြောင့် အဆိုပြုချက်အား ၁၄-၃-၂၀၁၆ နေ့တွင် လုပ်ငန်း အမျိုးအစား ပြောင်းလဲ၍ ပြင်ဆင် တင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) ယခင် တင်ပြခဲ့သည့် လုပ်ငန်းအမျိုးအစားမှာ Hotel , Shopping Mall and Villas စသည့် ဝန်ဆောင်မှု လုပ်ငန်းများ ဖြစ်ပြီး ယခု ပြန်လည်တင်ပြလာသည့် လုပ်ငန်းမှာ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဖြစ်ပါသည်။

(ဃ) ဆောက်လုပ်မည့် အဆောက်အဦမှာ (၉)ထပ် အဆောက်အဦ (၁)လုံးဖြစ်ပါသည်။

(င) ကားပါကင်နေရာတွင် ကားစီးရေ ၄၂ စီးနှင့် မော်တော်ဆိုင်ကယ် ၁၆ စီး ရပ်နားနိုင်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(စ) မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ ထောက်ခံတင်ပြထားသည့် ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေး ပစ္စည်းများနှင့် အရေအတွက်စာရင်းမှာ မူလအဆိုပြုတင်ပြထားသည့် Hotel , Shopping Mall and Villas စသည့် ဝန်ဆောင်မှု လုပ်ငန်းများအတွက် ဆောက်လုပ်ရန်ဖြစ်ကြောင်း နှင့် ယခု ပြောင်းလဲဆောင်ရွက်မည့် ဝန်ဆောင်မှုလုပ်ငန်းအတွက် ထောက်ခံထားခြင်း မဟုတ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဆ) အဆိုပြုလုပ်ငန်း၏ မြေနေရာ ဆောင်ရွက်ခွင့်အတွက် (၂၁-၁-၂၀၁၆)နေ့တွင် ကျင်းပသော ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ် (၃/၂၀၁၆)မှ ခွင့်ပြုပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Mya Bay H & CO Platinum Pathein Co., Ltd. အမည်ဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ၁၁ ရပ်ကွက်၊ ကွင်းအမှတ်(၅၀)၊ သစ်ညိုကုန်းကွင်း၊ ဦးပိုင်အမှတ်(၃၈/၂၊ ၃၈/၃၊ ၃၈/၅)ရှိ စုစုပေါင်း မြေဧရိယာ(၁၅.၂၈)ဧကတွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ(က)



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ဧရာဝတီတိုင်းဒေသကြီး**

စာအမှတ်၊ ၁၀၀/၃-၁/အစိုးရ (ဧရာဝတီ)
ရက်စွဲ ၊ ၂၀၁၅ခုနှစ်၊ အောက်တိုဘာလ ၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈. ၇. ၂၀၁၅ )ရက်စွဲပါစာအမှတ်၊ ရက-၃/န-၁၂၂၉/၂၀၁၅ (၈၈၃ )



၁။ ဟောင်ကောင်ရှိ H&Co Real Estate Holding Co., Ltd မှ နိုင်ငံခြား ၈၀% နှင့် Mya Bay Development Co.,Ltd မှ မြန်မာ ၂၀% တို့ ဖက်စပ်ထူထောင်ပြီး Mya Bay H&Co Platinum Pathein Co.,Ltd အမည်ဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့ (၁၁)ရပ်ကွက်၊ ကွင်းအမှတ်(၅၀)၊ သစ်ညိုကုန်းကွင်း၊ ဦးပိုင်အမှတ်(၃၈/၂၊ ၃၈/၃၊ ၃၈/၅)ရှိ စုစုပေါင်းမြေ(၁၅. ၂၈)ဧကတွင် Hotel, Shopping Mall and Villas စသည့် ဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr. Jonathan Paul Nichols မှတင်ပြလာခြင်းနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ အောက်ဖော်ပြပါအချက်များအား လိုအပ်သလိုဆက်လက်ဆောင်ရွက်နိုင်ပါရန် သဘောထားပေးပို့တင်ပြအပ်ပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ**

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိနိုင်သလို နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းအားလည်း ထိခိုက်မှုမရှိနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ခ) **မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်**

Mya Bay H&Co Platinum Pathein Co.,Ltd ၏ ယခုအဆိုပြုတင်ပြလာသည့် Hotel, Shopping Mall and Villas ဝန်ဆောင်မှုလုပ်ငန်းများအား ရင်းနှီးမြှုပ်နှံခြင်းဖြင့် ဒေသခံပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု

အတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

**(ဂ) ဖော်ပြပါမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ**

အဆိုပြုလျှောက်ထားလာသည့်နေရာသည် ယခုအဆိုပြုလာသည့် Mya Bay H&Co Platinum Pathein Co.,Ltd ၏ လုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်း မရှိပါကြောင်း ထောက်ခံအပ်ပါသည်။

**(ဃ) လုပ်ငန်းဆောင်ရွက်မည့် မြေအမျိုးအစားဟုတ်/မဟုတ်**

ဖော်ပြပါ Mya Bay H&Co Platinum Pathein Co.,Ltd အဆိုပြုထားသည့် မြေနေရာသည် လုပ်ငန်းဆောင်ရွက်မည့် မြေအမျိုးအစားမှန်ကန်ပါကြောင်း ထောက်ခံအပ်ပါသည်။

**(င) တိုင်းဒေသကြီးအစိုးရအဖွဲ့၏အကြံပြုချက်**

တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ယခုအဆိုပြုလာသည့် Mya Bay H&Co Platinum Pathein Co.,Ltd ၏ Hotel, Shopping Mall and Villas ဝန်ဆောင်မှုလုပ်ငန်းများသည် ဧရာဝတီတိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့်လုပ်ငန်းများဖြစ်ပါသဖြင့် ပြည်ပရင်းနှီးမြှုပ်နှံမှုများအပေါ် ထောက်ခံပါကြောင်း အကြံပြုတင်ပြအပ်ပါသည်။

( သိန်းအောင် )
ဝန်ကြီးချုပ်

မိတ္တူကို

Mya Bay H&Co Platinum Pathein Co.,Ltd
လှည့်လည်စာတွဲ
ရုံးလက်ခံ

MZH Letter

နောက်ဆက်တွဲ(ဂ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

NPT-4848 21.10.15 MB-1040 ၂၂/၁၀

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၈၈၀ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊အောက်တိုဘာလ ၂၀ ရက်

သို့

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉ - ၉ - ၂၀၁၅ ရက်စွဲပါစာ အမှတ်၊ ရက - ၄ / န - ၀၃၀ / ၂၀၁၅ (၇၇၁)

၁။ ဟောင်ကောင်ရှိ H & CO Real Estate Holding Co., Ltd. (နိုင်ငံခြား ၈၀ %) နှင့် Mya Bay Development Co., Ltd. (မြန်မာ ၂၀ %) တို့ဖက်စပ်ထူထောင်ပြီး Mya Bay H & CO Platinum Pathein Co., Ltd. အမည်ဖြင့် ဧရာဝတီ တိုင်းဒေသကြီး၊ ပုသိမ်မြို့ (၁၁) ရပ်ကွက် ၊ ကွင်းအမှတ် (၅၀) ၊ သစ်ညိုကုန်းကွင်း ၊ ဦးပိုင်အမှတ်( ၃၈ / ၂ ၊ ၃၈ / ၃ ၊ ၃၈ / ၅ ) ရှိ စုစုပေါင်း မြေ (၁၅.၂၈) ဧကတွင် Hotel, Shopping Mall and Villas စသည့် ဝန်ဆောင်မှု လုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ Hotel, Shopping Mall and Villas တည်ဆောက်ရေး လုပ်ငန်းများ နှင့် ဝန်ဆောင်မှု လုပ်ငန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ ၊ စွန့်ပစ်အရည်များကြောင့် ရေထု ညစ်ညမ်းမှု ၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း နှင့် အဆိုပါစွန့်ပစ် အရည်များ ၊ စွန့်ပစ် ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မှု မရှိပါက ပတ်ဝန်းကျင်ရှိ ပြည်သူလူထု၏ ကျန်းမာရေး ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Mya Bay H & CO Platinum Pathein Co., Ltd. မှ လုပ်ကိုင် ဆောင်ရွက်မည့် Hotel, Shopping Mall and Villas စသည့် ဝန်ဆောင်မှုလုပ်ငန်းများ နှင့် ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ် ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေး နှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြု လွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility - CSR ) အတွက် နှစ်စဉ်ရရှိလာမည့် အသားတင်

အမြတ်ငွေ၏ (၂ %) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး ( သို့မဟုတ် ) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကို ဆောင်ရွက်ပြီး EIA အစီရင်ခံစာအား ရေးဆွဲပြုစုတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်များ ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်(Environmental Management Plan - EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ၊ ညွှန်ကြားချက်များ၊ ဟိုတယ် နှင့် ခရီးသွားလာရေးဥပဒေ၊ နည်းဥပဒေများ ၊ ညွှန်ကြားချက်များ ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာ ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်း/ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

*D:\DICM\October - CD\Mya Bay H & Co Platium Pathein Co.,Ltd.doc2*

နောက်ဆက်တွဲ (ဂ)

MB-1038
22/10

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈-၈ (အုပ်ချုပ်မှု) /နပတ/ ၃၃၆၀
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်။

NPT-4890
21.10.15 သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၉-၉-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၄/န-၀၃၀/၂၀၁၅(၇၇၂)

၁။ ဟောင်ကောင်ရှိ H& Co Real Estate Holding Co., Ltd (နိုင်ငံခြား၈၀%)နှင့် Mya Bay Development Co., Ltd (မြန်မာ၂၀%)တို့ဖက်စပ်ထူထောင်ပြီး Mya Bay H&CO Platinum Pathein Co.,Ltd အမည်ဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ၁၁ရပ်ကွက်၊ ကွင်းအမှတ်(၅၀)၊ သစ်ညို ကုန်းကွင်း၊ ဦးပိုင်အမှတ်(၃၈/၂၃၈/၃၂၃၈/၅)ရှိ စုစုပေါင်းမြေ(၁၅.၂၈)ဧကတွင် Hotel, Shopping Mall and Villas စသည့်ဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr.Jonatha Paul Nichols မှ အဆိုပြုလွှာတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ဧရာဝတီတိုင်းဒေသကြီး၏မြို့တော်ဖြစ်သောပုသိမ်မြို့သည် ငွေဆောင်ကမ်းခြေ၊ ချောင်းသာ ကမ်းခြေဒေသများကဲ့သို့ ပြည်တွင်းပြည်ပဧည့်သည်များစိတ်ဝင်စားသည့် ခရီးစဉ်ဒေသနှင့်ဆက်စပ် သော မြို့ဖြစ်ပြီးခရီးသွားကဏ္ဍ အတွက်အလားလာကောင်းမွန်သောဒေသဖြစ်ပါသည်။ တိုးတက်လျက် ရှိသည့် ခရီးသွားကဏ္ဍနှင့်အတူ ပိုမိုဝင်ရောက်လာသည့် ဧည့်သည်များအတွက် အဆင့်မီအိပ်ခန်းများ နှင့် အခြားဝန်ဆောင်မှုများဖြည့်ဆည်းပေးမည့် စုစုပေါင်းအခန်း(၁၅၅)ခန်းပါ ဟိုတယ်(၁)လုံး၊ Villas (၂၆)လုံး၊ Shopping Mall (၂)ခုနှင့်၊ရုပ်ရှင်ရုံအငယ်စား(၁)ခုတို့ပါဝင်မည့် စီမံကိန်းဖြစ်သည့်အတွက် Mya Bay H&CO Platinum Pathein Co., Ltd မှ လုပ်ငန်းဆောင်ရွက်ရန် တင်ပြလာခြင်းကို ကန့်ကွက်ရန်မရှိပါ။

C-2 -1 Remark -LH

၃။ ယခုအဆိုပြုတင်ပြလာသည့် မြေအမျိုးအစားသည်လယ်မြေအမျိုးအစားဖြစ်ကြောင်းတွေ့ရှိရသည့်အပြင်ပိုင်ရှင်(၃)ဦးထံမှ ဝယ်ယူထားပြီးဟိုတယ်လုပ်ငန်းဆောင်ရွက် မည်ဖြစ်သဖြင့် လယ်မြေကို အခြားနည်းအသုံးပြုရန်အတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ တင်ပြလျှောက်ထားဆဲဖြစ်ကြောင်း စိစစ်တွေ့ရှိရသော်လည်း တရားဝင်ခွင့်ပြုချက်ရရှိရေးဆောင်ရွက်ပြီးတင်ပြသွားရန် လိုအပ်မည်ဖြစ်ပါသည်။

၄။ Mya Bay H &CO Platinum Pathein Co., Ltd မှ အထပ်(၉)ထပ်၊အခန်း(၁၅၅)ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်သည့်အတွက် ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ခွင့်ပြုချက်ရရှိထားသော်လည်း ဧရာဝတီတိုင်းဒေသကြီးစည်ပင်သာယာရေးအဖွဲ့၏ ခွင့်ပြုချက်ရယူဆောင်ရွက်သွားရန်လိုအပ်မည်ဖြစ်ပါသည်။

၅။ Mya Bay H &CO Platinum Pathein Co., Ltd မှ ငှားရမ်းမည့် အခန်းခနှုန်းထားများ တွင် Single Room (၁)ခန်းလျှင်အမေရိကန်ဒေါ်လာ(၈၀)၊ Double Room(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၈၀)၊ Suite Room (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၁၀၀) နှုန်း စသည်ဖြင့် သတ်မှတ်ဖော်ပြထားသဖြင့် ငှားရမ်းမည့်နှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါသည်။

၆။ မူလအဆိုပြုချက်တွင် Villa (၂၆) လုံးတည်ဆောက်ပြီး၊ (၁) လုံးလျှင် အမေရိကန်ဒေါ်လာ (၂၀၀၀၀၀) နှုန်းဖြင့် ရောင်းချရန် ထည့်သွင်းတင်ပြထားသော်လည်း (၂၇-၇-၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဆိုပြုလွှာ စစ်ဆေးရေးအဖွဲ့၏ (၂၆/၂၀၁၅) ကြိမ်မြောက်အစည်းအဝေးတွင် အပြီးအပိုင်ရောင်းချခွင့်မရှိဘဲ ငှားရမ်းခွင့်သာ ရရှိနိုင်မည်ဖြစ်ကြောင်း ဆွေးနွေးခဲ့သဖြင့်အဆိုပါ Villa များတည်ဆောက်ရေးကိစ္စအားဆောင်ရွက်ခြင်း မပြုတော့ဟုသိရှိရပါသည်။ သို့ဖြစ်ပါ၍မူလ Villa (၂၆)လုံး တည်ဆောက်ရန်လျာထားသည့် မြေဧရိယာ (၄) ဧကခန့်တွင် ကုမ္ပဏီမှ ဆက်လက်ဆောင်ရွက်မည့် အစီအစဉ်အား ထပ်မံတင်ပြရန် လိုအပ်မည်ဖြစ်ပါသည်။

၇။ Mya Bay H&CO Platinum Pathein Co., Ltd မှ ဆောင်ရွက်မည့်ဟိုတယ်လုပ်ငန်း အတွက်ပြည်ပမှတင်သွင်းမည့်တည်ဆောက်ရေးပစ္စည်းများ၊ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့်ပက်သက်၍ အခွန်သက်သာခွင့်မှာကော်မရှင်၏ အဆုံးအဖြတ်သာ ရယူရမည် ဖြစ်ပါသည်။

၈။ ထို့အပြင် Mya Bay H&CO Platinum Pathein Co., Ltd မှ ဆောင်ရွက်မည့်ဟိုတယ် လုပ်ငန်းအတွက် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေ၊ နည်းဥပဒေနှင့် လိုင်စင်ဆိုင်ရာ

အမိန့်များတွင် ပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်စံနှုန်းများ(Basic Requirements and Criteria)ထက်မနိမ့်ကျစေရေးအတွက်အဆိုပါဥပဒေ၊အမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရန်လည်းလိုအပ်မည်ဖြစ်ပါသည်။

( ဦးဌေးအောင် )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ရုံးလက်ခံ

မျှော

နောက်ဆက်တွဲ (ဃ)

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
MYANMAR ENGINEERING SOCIETY
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ မအသ / MIC / ၁၅၂၁ / ၂၀၁၅။
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ၊ ( ၁၂ ) ရက်။

အကြောင်းအရာ။ ။ **Mya Bay H & CO Platinum Pathein Co.,Ltd ၏ Hotel, Shopping Mall and Villas စသည့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ခုနှစ်၊ စက်တင်ဘာလ(၂၉)ရက် နေ့စွဲပါ စာအမှတ်၊ ရက-၄/န-၀၃၀/၂၀၁၅ (၇၇၃)

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Mya Bay H & CO Platinum Co., Ltd မှ ၂၀၁၅ခုနှစ်၊ စက်တင်ဘာလ(၂၉)ရက်စွဲဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့ (၁၁)ရပ်ကွက်၊ ကွင်းအမှတ်(၅၀)သစ်ညိုကုန်းကွင်း၊ ဦးပိုင်အမှတ်(၃၈/၂ ၃၈/၃၊ ၃၈/၅)ရှိ စုစုပေါင်းမြေ (၁၅.၂၈)ဧကတွင် Hotel, Shopping Mall and Villas စသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သောပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များ ပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့်ပတ်သက်၍ (၂-၁၀-၂၀၁၅)ရက်နေ့မှ (၁၂-၁၀-၂၀၁၅) ရက်နေ့အထိ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ်သုံးသပ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ပုသိမ်မြို့တွင် တည်ဆောက်မည့် Hotel, Shopping Mall and Villas တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦပိုင်းတွင် အဓိကဆောက်လုပ်ရေးပစ္စည်းဖြစ်သော Cement, Rebar နှင့် Structural Steel များကို ပြည်ပမှ တင်သွင်းခြင်းမပြုဘဲ ပြည်တွင်းမှသာ ဝယ်ယူ၍ဆောက်လုပ်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၅။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် | BQ တွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Tower Crane | ၈ Nos | - | ၁ Nos |
| ၂။ | Elevator | ၈ Nos | - | ၇ Nos |
| ၃။ | Batching Plant | ၁ Nos | - | ၁ Nos |
| ၄။ | Station Pump | ၂ Nos | - | ၂ Nos |
| ၅။ | Concrete Mixer Truck | ၈ Nos | - | ၆ Nos |
| ၆။ | System Formwork | ၆၄၇၁ $m^2$ | - | ၆၄၇၁ $m^2$ |
| ၇။ | 35 Ton Mobile Crane | ၂ Nos | - | ၂ Nos |

Nos = စီးရေ , $m^2$ = စတုရန်းမီတာ

မှတ်ချက်။ ။(၁) ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဉက္ကဋ္ဌ (ကိုယ်စား)
(ကြည်လွင်၊အတွင်းရေးမှူး)
MIC Projects Assessment Committee
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**မိတ္တူကို** – Managing Director, Mya Bay H & CO Platinum Pathein Co., Ltd
– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
– အတွင်းရေးမှူး၊ MIC Projects Assessment Committee
– ရုံးလက်ခံ / မျှောစာတွဲ

နောက်ဆက်တွဲ (င)

မြို့နယ်စည်ပင်သာယာရေးအဖွဲ့
ပုသိမ်မြို့
စာအမှတ်၊ ၃၇၇၀ / ဆ-၇ /ပသ-၁ (၀၀၂)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၁၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

အကြောင်းအရာ။ **ကန့်ကွက်ရန်မရှိကြောင်းအကြောင်းပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၊ (၂၇. ၁၀. ၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၁၀/၂၀၁၅ (၈၃၉)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဟောင်ကောင်ရှိ H & CO Real Estate Holding Co.,Ltd. (နိုင်ငံခြား ၈၀ %) နှင့် Mya Bay Development Co.,Ltd (မြန်မာ ၂၀%) တို့ ဖက်စပ်ထူထောင်ပြီး Mya Bay H & CO Platinum Pathein Co.,Ltd အမည်ဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ (၁၁) ရပ်ကွက်၊ ကွင်းအမှတ် (၅၀)၊ သစ်ညိုကုန်းကွင်း၊ ဦးပိုင်အမှတ် (၃၈/၂၊ ၃၈/၃၊ ၃၈/၅) ရှိ စုစုပေါင်းမြေ (၁၅. ၂၈) ဧကတွင် Hotel, Shopping Mall and Villas စသည့်ဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr.Jonathan Paul Nichols မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ရာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအခန်း (၆)၊ အပိုဒ် (၄၃) ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါကြောင်းကို ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ပုသိမ်မြို့နယ်စည်ပင်သာယာရေးကော်မတီအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထား မှတ်ချက်ပြန်ကြားအပ်ပါသည်။

အမှုဆောင်အရာရှိ
(မောင်တိုး၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ
မျှော

To

**Chairman**

**Myanmar Investment Commission**

**Building (32), Nay Pyi Taw,**

**The Republic of the Union of Myanmar.**

Date:

**Subject:** Application for Investment Permit for establishment of foreign company for carrying out Hotel business at Ayeyarwaddy Division in the Republic of the Union of Myanmar.

Yours Excellency,

1 We, respectfully requests Myanmar investment Commission to approve our investment proposal and to issue investment permit for Hotel business under the name of Mya Bay H & Co Platinum Pathein Co.,Ltd as a joint venture Foreign Investment Company in the Republic of the Union of Myanmar according to the Foreign Investment Law of the Republic of the Union of Myanmar.

2 We, respectfully submit the following documents for your kind consideration and approval.

| | |
|---|---|
| (1) Proposal of the promoter to make Foreign Investment in the Republic of the Union of Myanmar. | Attachment - A |
| (2) Director List | Attachment - B |
| (3) Investment Schedule | Attachment - C |
| (4) Economic Benefit Schedule / The Statement of Economic Justification | Attachment - D |
| (5) Joint Venture Agreement | Attachment - E |
| (6) Land Lease Agreement (Draft) | Attachment - F |
| (7) Photo of machinery and equipment to be imported | Attachment - G |
| (8) Coporate Social Responsibilities | Attachment - H |
| (9) Annual Water Requirement | Attachment - I |
| (10) Promisc to Deduct and Pay Personal Tax On Salary | Attachment - J |
| (11) Social and Welfare Plan | Attachment - K |
| (12) Hotel Layout Plan and Photo | Attachment - L |
| (13) Environment control plan | Attachment - M |
| (14) Fire Protection plan | Attachment - N |
| (15) Documents of H & Co Real Estate Holding Limited | Attachment - O |
| (16) Original Bank Statement of Foreign side and Myanmar side | Attachment - P |
| (17) Documents of Mya Bay Development Co.,Ltd | Attachment - Q |
| (18) Documents of submitting for company registration | Attachment - R |
| (19) Memorandum of Association and Articles of Association | Attachment - S |
| (20) Car Parking | Attachment - T |

3. We also respectfully request MIC to grant the following tax exemptions and reliefs on our investment project in accordance with section 27 of the foreign investment law.

a. exemption from income-tax for a period extending to (5) consecutive years, inclusive of the year of commencement of production of our goods and exemption or relief from income-tax for a further reasonable period, depending upon the success of our enterprise in which investment is made;

b. exemptions or reliefs from income tax on profits of the business if they are maintained for re-investment in a reserve fund and re-invested therein within 1 year after the reserve is made;

c. right to deduct depreciation from the profit, after computing as the rate of deducting depreciation stipulated by the Union, in respect of machinery, equipment, building or other capital assets used in the business for the purpose of income tax assessment;

d. if the goods produced by any manufactruing business are exported, relief from income tax up to 50 percent on the profits accrued from the said export;

e. right to pay income tax on the income of investors at the rates applicable to the citizens residing within the Union;

f. right to deduct expenses from the assessable income, such expenses incurred in respect of research and development relating to the business which are actually required and are carried out within the Union;

g. right to carry forward and set-off the loss up to 3 consecutive years from the year the loss is actually sustained within 2 years following the enjoyment of exemption or relief from income tax as contained in sub-section (a), for each business;

h. exemption or relief from custom duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business, which are imported as they are actually required for use during the period of construction of business;

i. exemption or relief from customs duty or other internal taxes or both on raw materials imported for production for the first three-year after the completion of construction of business;

j. if the volume of investment is increased with the approval of the Commission and the original investment business is expanded during the permitted period, exemption or relief from custom duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business which are imported as they are actually required for use in the business expanded as such;

k. exemption or relief from commercial tax on the goods produced for export.

4. We, intend to achieve the followings,

( a ) Promotion and expansion of exports

( b ) Acquisition of high technology

( c ) Opening up of more employment opportunities

( d ) Regional development

Should you have any questions, please feel free to contact us.
We look forward to your favorable reply soon.

**Sincerely,**
**Mya Bay H & Co Platinum Pathein Co.,Ltd**

**Managing Director**
**Mr. Jonathan Paul Nichols**

**Attachment - A**

000045

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE FROREIGN INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR

5

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန်
## ရင်းနှီးမြှုပ်နှံသူ / ကမကထပြုသူ၏အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

စာအမှတ်၊
ရက်စွဲ၊

ကျွန်တော်/ကျွန်မသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါ အချက်အလက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ သို့မဟုတ် ကမကထပြုသူ၏-

(က) အမည် ..............................

(ခ) အဖအမည် ..............................

(ဂ) နိုင်ငံသား စိစစ်ရေးကဒ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် ..............................

(ဃ) နိုင်ငံသား ..............................

(င) နေရပ်လိပ်စာ ..............................

(၁) ပြည်တွင်း ..............................

(၂) ပြည်ပနိုင်ငံ ..............................

(စ) ပင်မကုမ္ပဏီအမည် ..............................

(ဆ) လုပ်ငန်းအမျိုးအစား ..............................

(ဇ) ပင်မကုမ္ပဏီ တည်ရှိရာလိပ်စာ ..............................

..............................

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ရင်းနှီးမြှုပ်နှံသူ နှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏-

(က) အမည် ..............................

(ခ) အဖအမည် ..............................

(ဂ) နိုင်ငံသား စိစစ်ရေးကဒ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် ..............................

(ဃ) နိုင်ငံသား ..............................

(င) နေရပ်လိပ်စာ ..............................

(၁) ပြည်တွင်း ..............................

(၂) ပြည်ပနိုင်ငံ ..............................

Form (1)

Proposal Form of Investor/Promoter for the investment to be made
in the Pepublic of the Union of Myanmar

To,

**Chairman**

**Myanmar Investment Commission**

Reference No:

Date 9 - 7 - 2015

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with the Foreign Investment Law by furnishing the following particulars:-

1. The Investor's of Promoter's:-
   - (a) Name **Mr.Jonathan Paul Nichols**
   - (b) Father's Name **Mr.Paul Vincent Nichols**
   - (c) ID No./Passport No. **E 4126852**
   - (d) Citizenship **Australian**
   - (e) Address: **No.29, Smith Street, Manly, Sydney New South Wales, Australia 2095**
     - (i) Address in Myanmar **No.73, Bo Yar Nyunt Street, Penth House, Dagon Tsp, Yangon.**
     - (ii) Residence abroad ..........
   - (f) Name of Principle Organization ..........
   - (g) Type of Business ..........
   - (h) Principle Company's Address: ..........

2. If the investment business is formed under Joint Venture, partners':-
   - (a) Name **Daw Win Win Khine**
   - (b) Father's Name **U Khin Aung**
   - (c) ID/NRC No./Passport No. **12/OuKaMa(N)103626**
   - (d) Citizenship **Myanmar**
   - (e) Adress: **No.60, Rm(B-3-C), Boyar Nyunt Street, Yawmingyi Qtr, Dagon Tsp, Yangon.**
     - (i) Adress in Myanmar ..........
     - (ii) Residence abroad ..........

6

(f) Parent Company ..........................................................................................

(g) Type of Business ..........................................................................................

(h) Parent Company's Address ..........................................................................................

..........................................................................................

**Remarks:** The following documents need to attach according to the above paragraph (1)and(2):-

(1) Company Registration Certificate (Copy); **Attachment - B**

(2) National Identificaton Card (Copy) and Passport (Copy); **Attachment - B**

(3) Evidences about the business and financial conditions of the participants of the proposed investment business; **Attachment - B**

3. Type of Proposed investment business:-

(a) Manufacturing **Hotel Services**

(b) Service Business related with manufacturing ..........................................................................................

..........................................................................................

(c) Service ..........................................................................................

(d) Others ..........................................................................................

**Remarks:** Expressions about the nature of business with regard to the above paragraph (3)

4. Type of business organization to be formed:-

(a) One hundred percent ..........................................................................................

(b) Jonint Venture:

(i) Foreigner and Citizen **MYA BAY H & CO PLATINUM PATHEIN CO., LTD**

(ii) Foreigner and Government Department/Organization ..........................................................................................

..........................................................................................

(c) By Contract based:

(i) Foreigner and Citizen ..........................................................................................

(ii) Foreigner and Government Department/Organization ..........................................................................................

..........................................................................................

**Remarks:** The Following information needs to attach for the above Paragraph (4):- **Exhibit -1, 1(a)**

(i) Share ratio for the authrized capital from abroad and local, names, citizenships, addresses and occupations of the directors;

(ii) Jonint Venture Agreement (Draft) and recommendation of Attorney General's Office if the investment is related with the State;

(iii) Contract (Agreement) (Draft)

7

5. Information related to Company incorporation

(a) Authorized Capital ........**100,000,000 US$**........

(b) Type of Share ........**Ordinary Share**........

(c) Number of Share ........**100,000,000**........

........................................................

**Remarks:** Memorandum of Association and Articles of Association of the Company shall be submited with regard to above paragraph 5. **Attachment - S**

6. Particulars relating to Capital of the investment business

| | **Kyat/US$(Million)** |
|---|---|
| (a) Amount/Percentage of Local capital to be contributed | **3.206814 US$ (20%)** |
| (b) Amount/Percentage of Foreign Capital to be brought in | **12.827257 US$ (80%)** |
| **Total** | **16.034071 US$ (100%)** |

(c) (Annual/period) of proposed capital to be brought in

........**Within one month from the date of issuance of MIC Permit**........

(d) Last date of capital brought in

........**Within 2 years from the date of issuance of MIC Permit**........

(e) Proposed duration of Investment ........**50 Years**........

(f) Commencement date of Construction **Within 3 months from the date of issuance of MIC Permit**

(g) Construction Period ........**3 Years**........

**Remarks:** Desctibe with annexure if it is required for the above Para 6(c)

7. Detail list of foreign capital to be brouth in-

| | **Foreign Currency (Million)** | **Equivalent Kyat (Million)** |
|---|---|---|
| (a) Foreign Currency (Type of currency and amount) | **10.302357 US$** | **10302.357 Kyat** |
| (b) Machinery and Equipments and Value (to enclose detail list) | **2.524900 US$** | **2524.900 Kyat** |
| (c) List of initial Raw Materials and value (to enclose detail list) | .......... | .......... |

| | | | |
|---|---|---|---|
| (d) | Value of licence, Intellectual Property, Industrial Design, Trade Mark, Patent, etc. | ........................ | ........................ |
| (e) | Value of Technical Know-how | ........................ | ........................ |
| (f) | Other | ........................ | ........................ |
| | **Total** | **12.827257 US$ Million** | **12827.257 Kyat Million** |

**Remarks:** The evidence of permission shall be submitted for the above para 7(d) and (e).

8. Detail list of Paid up Capital to be brought in from Local-

| | | **Kyat (Million)** |
|---|---|---|
| (a) | Amount | **3206.814** |
| (b) | Value of Machinery and Equpments (to enclose detail list) | ........................ |
| (c) | Rental rate for building/land | ........................ |
| (d) | Cost of building Construction | ........................ |
| (e) | Value of Furniture and Assets (to enclose detail list) | |
| (f) | Value of initial Raw Material requirement (to enclose detail list) | ........................ |
| (g) | Others | ........................ |
| | **Total** | **3206.814** |

9. Particulars about the investment business-

(a) Investment Location(s)/Place **Land No.50, (11) Ward, Thitnyo Kone, U Pine No.(38/2, 38/3, 38/5), Pathein Township, Ayeyarwaddy Region.**

(b) Type and area requirement for Land or Land and Building

(i) Loacial **Land No.50, (11) Ward, Thitnyo Kone, U Pine No.(38/2,38/3, 38/5), Pathein Township, Ayeyarwaddy Region.**

(ii) Number of Land/Building and area **Land - 15.28 acres**

